အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် i-Land Park Myanmar Limited တည်ထောင်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ i-Land Industrial Estate အတွင်းရှိ ငှားရမ်းသူများအား လျှပ်စစ်ဓာတ်အားနှင့် ရေနွေးငွေ့ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - i-Land Park Myanmar Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Tam Chi Wah Terry (စင်ကာပူ) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>i-Land Industrial Park Holding Pte. Ltd. ၈၀%<br>(စင်ကာပူ)<br>Worldwide infinity Myanmar Co., Ltd. ၂၀%<br>(မြန်မာ) |
| | လုပ်ငန်းအမျိုးအစား | - i-land Industrial Estate အတွင်းရှိ ငှားရမ်းသူများအား ၁၉ မဂ္ဂါဝပ်ထုတ်လုပ်နိုင်သော လျှပ်စစ်ဓာတ်အားနှင့် ရေနွေးငွေ့ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် S-01 ရှိ မြေ ၈၂၂၀ စတုရန်းမီတာအနက် **မြေ ၆,၆၁၁ စတုရန်းမီတာ**နှင့် S-02 ရှိမြေ ၁၀,၂၁၉ စတုရန်းမီတာ အနက်**မြေ ၇,၃၈၁ စတုရန်းမီတာ** စုစုပေါင်းမြေ ၁၃,၉၉၂ စတုရန်းမီတာ၊ နောင်ကွမ်ကွင်း၊ ကွင်းအမှတ်၁၃၉၃၊ ဘောနတ်ကြီးကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - မူလပိုင်ရှင် ဒေါ်သွဲ့သွဲ့ကြည်ထံမှ i-Land Park Myanmar Limited သည် စုစုပေါင်း မြေ ၁၈၂ ဧက အား ကနဦးနှစ် ၅၀ မြေငှားသက်တမ်းဖြင့် ငှားရမ်းလုပ်ကိုင်ခွင့် ရရှိထားပြီး ဖြစ်ပါသည်။ |
| | မြေအကျယ်အဝန်း | - ငှားရမ်း လုပ်ကိုင်ခွင့် ရရှိထားသည့် မြေ ၁၈၂ ဧက (၁၃,၉၉၂ စတုရန်းမီတာ) အနက်မှ ၃.၄၆ ဧက (၁၃,၉၉၂ စတုရန်းမီတာ) |
| ၄။ | ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် သက်တမ်း | - ကနဦး ၄၈ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် |
| ၅။ | တည်ဆောက်မှုကာလ | - ၁ နှစ် |

| | | | | |
|---|---|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - US$၂၃.၁၈ သန်း | | |
| | **ထည့်ဝင်သည့်အမျိုးအစား** | **မြန်မာ (US$/သန်း)** | **နိုင်ငံခြား (US$/သန်း)** | **စုစုပေါင်း (US$/သန်း)** |
| | ငွေသား | | ၀.၁၅၀ | ၀.၁၅၀ |
| | ဓာတ်အားပေးစက်ရုံတည်ဆောက်ရေး ကုန်ကျစရိတ် | ၄.၅၇၀ | ၂.၁၉၁ | ၆.၇၆၁ |
| | စက်ပစ္စည်းကိရိယာတန်ဖိုး (ပြည်ပဝယ်) | | ၁၆.၂၀၃ | ၁၆.၂၀၃ |
| | မော်တော်ယာဉ်(ပြည်တွင်း) | ၀.၀၄၅ | | ၀.၀၄၅ |
| | ပရိဘောဂနှင့်အခြားရုံးသုံးပစ္စည်းများ (ပြည်တွင်း) | ၀.၀၂၁ | | ၀.၀၂၁ |
| | **စုစုပေါင်း** | **၄.၆၃၆** | **၁၈.၅၄၄** | **၂၃.၁၈၀** |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% | | |
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း (ပထမနှစ်) | **အမျိုးအမည်** | **ထုတ်လုပ်မည့် အရေအတွက်** | **ဈေးနှုန်း (US$/ယူနစ်)** |
| | | လျှပ်စစ်ဓာတ်အား | ၂၇,၇၄၀,၀၀၀ kWh | ၀.၂၀ |
| | | ရေနွေးငွေ့ | ၁၀,၂၂၀ ton/hr | ၂၅.၀၀ |
| ၉။ | ဝန်ထမ်းခန့်ထားမှု | | **ပြည်တွင်း** | **ပြည်ပ** |
| | | **ဦးရေ** | ၄၀ ဦး | ၂ ဦး |
| | | **အမြင့်ဆုံးလစာ** | ကျပ် ၂,၇၅၀,၀၀၀ | US$ ၁၁,၀၀၀ |
| | | **အနိမ့်ဆုံးလစာ** | ကျပ် ၁၃၂,၀၀၀ | US$ ၈,၈၀၀ |
| ၁၀။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် i-Land Park Myanmar Limited အမည်ဖြင့် ၃၁-၁-၂၀၁၈ ရက်စွဲဖြင့် KBZ bank (international banking division) တွင် ၆၅,၇၈၃,၇၇၉.၆၁ ကျပ်ရှိကြောင်းနှင့် i-Land Park Myanmar Limited အမည်ဖြင့် ၁-၂-၂၀၁၈ ရက်စွဲဖြင့် KBZ bank (ကျောက်တံတား ဘဏ်ခွဲ) တွင် US$ ၃၄,၈၄၄.၃၁ ရှိကြောင်းနှင့် တင်ပြထားပါသည်။<br>- i-Land Park Myanmar Limited သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်အမှတ်-၁၀၂၈/၂၀၁၅(၁၁-၁၁-၂၀၁၅) ဖြင့် Development of Industrial Estate လုပ်ငန်း ဆောင်ရွက်ခွင့်ရရှိပြီးဖြစ်ရာ အဆိုပါ လုပ်ငန်းဆောင်ရွက်သည့် မြေနေရာအတွက် မြေပိုင်ရှင် ဒေါ်သွဲ့သွဲ့ကြည်နှင့် မြေငှားရမ်းသူ i-Land Park Myanmar Limited တို့အကြား စုစုပေါင်းမြေ ၁၈၂ ဧက | | |

| | | |
|---|---|---|
| | | အား ကနဦး နှစ် ၅၀ မြေငှားသက်တမ်းဖြင့် ချုပ်ဆိုထားသော မြေငှားစာချုပ်အား တင်ပြထားပါသည်။<br>- i-Land Industrial Park Holding Pte. Ltd. နှင့် Worldwide infinity Myanmar Co., Ltd. တို့အကြား ချုပ်ဆိုမည့်ဖက်စပ်စာချုပ်(မူကြမ်း)အား တင်ပြထားပါသည်။<br>-i-Land Park Myanmar Limited မှ Smart Energy Management System နှင့် Electrical Distribution System တို့အား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုချက်ရရှိပြီးသော i-Land Park Myanmar Limited ၏ စက်မှုဥယျာဉ်မြို့တော်တွင် လာရောက်ငှားရမ်းလုပ်ကိုင်သည့် လုပ်ငန်းများရှိသည့်အပြင် လုပ်ငန်းလုပ်ကိုင်ရန် ခွင့်ပြုချက်ရယူသော ဆောင်ရွက်ဆဲလုပ်ငန်းများရှိကြောင်း၊ လုပ်ငန်းလုပ်ကိုင်ရန် စိတ်ဝင်စားလျက်ရှိသော စီးပွားရေးလုပ်ငန်းများလည်း ဆွေးနွေးလျက်ရှိကြောင်း၊ ငှားရမ်းလုပ်ကိုင် သူများ၏ လုပ်ငန်းများ အဆင်ပြေချောမွေ့စွာ လည်ပတ်နိုင်ရန် လျှပ်စစ်ဓာတ်အားရရှိမှုသည် မရှိမဖြစ် အရေးပါသော အခြေခံ လိုအပ်ချက်အား ဖြည့်ဆည်း ပေးရန်အတွက် ခန့်မှန်းရင်းနှီး မြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၂၃.၁၇၉ သန်းခန့်ထည့်ဝင်၍ i-Land Industrial Estate အတွင်းတွင် ၁၉ မဂ္ဂါဝပ် ထုတ်လုပ်ပေးနိုင်သော လျှပ်စစ်ဓာတ်အား ထုတ်လုပ်မည့်စက်ရုံအား တည်ဆောက်ကာ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးခြင်းနှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်သော လုပ်ငန်းစဉ်တွင် ထွက်ရှိလာမည့် ရေနွေးငွေ့အား သိုလှောင်ထားကာ လိုအပ်သော စက်မှုလုပ်ငန်းများအတွက် ပြန်လည်ရောင်းချခြင်းများ ဆောင်ရွက်လို ကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | -အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC 351 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၂)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၅(လ)/အ-၀၀၄/၂၀၁၈( ၀၆၄ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် i-Land Park Myanmar Limited တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ i-Land Industrial Estate အတွင်းရှိ ငှားရမ်းသူများအား ၁၉ မဂ္ဂါဝပ် ထွက်ရှိမည့် လျှပ်စစ် ဓာတ်အားနှင့် ရေနွေးငွေ့ ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူနိုင်ငံ i-Land Industrial Park Holding Pte. Ltd. မှ ၈၀% နှင့် မြန်မာနိုင်ငံ Worldwide Infinity Myanmar Co., Ltd. မှ ၂၀% ထည့်ဝင်၍ i-Land Park Myanmar Limited အမည်ဖြင့် မြေကွက်အမှတ် S-01 ရှိမြေ ၆,၆၁၁ စတုရန်းမီတာနှင့် S-02 ရှိ မြေ ၇,၃၈၁ စတုရန်းမီတာ စုစုပေါင်းမြေ ၁၃,၉၉၂ စတုရန်းမီတာ၊ နောင်ကွမ်ကွင်း၊ ကွင်းအမှတ် ၁၃၉၃၊ ဘောနတ်ကြီးကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်းဒေသကြီးတွင် i-Land Industrial Estate အတွင်းရှိ ငှားရမ်းသူများအား ၁၉ မဂ္ဂါဝပ်ထွက်ရှိမည့် လျှပ်စစ်ဓာတ်အားနှင့် ရေနွေးငွေ့ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အတည်ပြုချက်နှင့်အတူ i-Land Industrial Park Holding Pte. Ltd. နှင့် Worldwide infinity Myanmar Co., Ltd. တို့အကြား ၂၀၁၃ခုနှစ် ဇွန်လ ၂၈ ရက်နေ့တွင် ချုပ်ဆိုထားသည့် ဖက်စပ်စာချုပ်အား တင်ပြထားပါသည်။ i-Land Park Myanmar Limited ၏ Smart Energy Management System နှင့် Electrical Distribution System တို့အား တင်ပြထားပါသည်။

၃။ မူလမြေပိုင်ရှင် ဒေါ်သွဲ့သွဲ့ကြည်ထံမှ i-Land Park Myanmar Limited သည် စုစုပေါင်း မြေ ၁၈၂ ဧကအား မြေငှားသက်တမ်း ကနဦးနှစ် ၅၀ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့် ရရှိထားပြီး ဖြစ်ပါသည်။

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ကနဦး ၄၈ နှစ် ဖြစ်ပြီး တစ်ဆက်တည်း သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ တစ်နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ US$၂၃.၁၈ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | မြန်မာ (၂၀%) | နိုင်ငံခြား (၈၀%) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | | ၀.၁၅၀ | ၀.၁၅၀ |
| ဓာတ်အားပေးစက်ရုံတည်ဆောက်ရေး ကုန်ကျစရိတ် | ၄.၅၇၀ | ၂.၁၉၀ | ၆.၇၆၀ |
| စက်ပစ္စည်းကိရိယာတန်ဖိုး(ပြည်ပဝယ်) | | ၁၆.၂၀၃ | ၁၆.၂၀၃ |
| မော်တော်ယာဉ်(ပြည်တွင်း) | ၀.၀၄၅ | | ၀.၀၄၅ |
| ပရိဘောဂနှင့်အခြားရုံးသုံးပစ္စည်းများ (ပြည်တွင်း) | ၀.၀၂၁ | | ၀.၀၂၁ |
| **စုစုပေါင်း** | **၄.၆၃၆** | **၁၈.၅၄၄** | **၂၃.၁၈၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၄၀ ဦး နှင့် ပြည်ပဝန်ထမ်း ၂ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၃၂,၀၀၀နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၇၅၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၈,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၁၁,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော လျှပ်စစ်ဓာတ်အားနှင့် ရေနွေးငွေ့ကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အားနှင့်ရေနွေးငွေ့(ပထမနှစ်) တွင် ထုတ်လုပ်မည့်အရေအတွက်နှင့် တစ်ယူနစ် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| အမျိုးအမည် | ထုတ်လုပ်မည့်အရေအတွက် | ဈေးနှုန်း(US$/ယူနစ်) |
|---|---|---|
| လျှပ်စစ်ဓာတ်အား | ၂၇,၇၄၀,၀၀၀ kWh | ၀.၂၀ |
| ရေနွေးငွေ့ | ၁၀,၂၂၀ ton/hr | ၂၅.၀၀ |

၈။ i-Land Park Myanmar Limited ၏တည်ထောင်လျက်ရှိသော စက်မှုဥယျာဉ်မြို့တော်တွင် လာရောက်ငှားရမ်း လုပ်ကိုင်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုချက် ရရှိပြီးသော လုပ်ငန်းများရှိသည့်အပြင် လုပ်ငန်းလုပ်ကိုင်ရန် ခွင့်ပြုချက်ရယူသော လုပ်ငန်းစဉ် ဆောင်ရွက်ဆဲလုပ်ငန်းများရှိကြောင်း၊ လျှပ်စစ်ဓာတ်အား ရရှိရန်မရှိမဖြစ်အရေးပါသော အခြေခံ လိုအပ်ချက်အား ဖြည့်ဆည်းပေးရန်အတွက် i-Land Industrial Estate အတွင်းတွင် ၁၉ မဂ္ဂါဝပ် ထုတ်လုပ်ပေးနိုင်သော လျှပ်စစ်ဓာတ်အား ထုတ်လုပ်မည့်စက်ရုံအား တည်ဆောက်ကာလျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးခြင်းနှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်သော လုပ်ငန်းစဉ်တွင် ထွက်ရှိလာမည့်ရေနွေးငွေ့အား သိုလှောင်ထားကာ လိုအပ်သော စက်မှုလုပ်ငန်းများအတွက် ပြန်လည်ရောင်းချခြင်းများ ဆောင်ရွက်လိုကြောင်း တင်ပြထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် i-Land Park Myanmar Limited အမည်ဖြင့် ၃၁-၁-၂၀၁၈ ရက်စွဲဖြင့် KBZ bank (international banking division) တွင် ၆၅,၇၈၃,၇၇၉.၆၀ ကျပ်ရှိကြောင်းနှင့် i-Land Park Myanmar Limited အမည်ဖြင့် ၁-၂-၂၀၁၈ ရက်စွဲဖြင့် KBZ bank (ကျောက်တံတား ဘဏ် ခွဲ) တွင် US$ ၃၄,၈၄၄.၃၁ ရှိကြောင်းနှင့် တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို လည်းတင်ပြထားပါသည်။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၃၆ အရ အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ ခွင့်ပြုမိန့် ရယူဆောင်ရွက်ရမည့်စာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်း၊ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်ကြောင်းစိစစ်ရပါသည်။

(ဃ) အဆိုပြု လုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဒေသများ ဇုန်(၂)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) အဆိုပြုလုပ်ငန်း အမျိုးအစားနှင့် အလားတူလုပ်ငန်းဖြစ်သည့် အသေးစားလျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ၂ ခု အနေဖြင့် FO လောင်စာသုံး ၄.၆ မဂ္ဂါဝပ် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြတ်သူရ စက်မှုလက်မှုကုမ္ပဏီလီမိတက်နှင့် HFO/ HFD လောင်စာသုံး ၁၀ မဂ္ဂါဝပ် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား အရှေ့တောင်အထွေထွေစွမ်းအင်နှင့် လျှပ်စစ်ကုမ္ပဏီ လီမိတက်တို့အား ကော်မရှင်မှ အတည်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် i-Land Park Myanmar Limited တည်ထောင်ပြီး ပဲခူးမြို့နယ်၊ ပဲခူးတိုင်းဒေသကြီးတွင် i-Land Industrial Estate အတွင်းရှိ ငှားရမ်းသူများအား ၁၉ မဂ္ဂါဝပ် ထွက်ရှိမည့် လျှပ်စစ်ဓာတ်အားနှင့် ရေနွေးငွေ့ ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ